# အလင်္ကာကျော်စွာ ကာတွန်းဝိဇ္ဇာ

# ဦးဘဂျမ်း

## လက်ရာစုံကာတွန်းများ





မောင်ဘဂျမ်းသည် ၁၂၆၃ ခုနှစ် တပို့တွဲလဆန်း ၁၃ ရက်နေ့ (၁၉၀၂ခုနှစ်၊ ဖေဖော်ဝါရီလ ၂၀ရက်နေ့)တွင် ညောင်တုန်းမြို့၌ ဖွားမြင်ခဲ့သည်။ ညောင်တုန်း မြို့မှ ပိုးကုန်သည် ဦးဖောင်၊ ဒေါ်မြစ်တို့၏ သားသမီး ၆ ယောက်အနက် မောင်ဘဂျမ်းသည် ပဉ္စမ မြောက် ဖြစ်သည်။ ငယ်စဉ်က ညောင်တုန်းမြို့အင်္ဂလိပ်-မြန်မာ နှစ်ဘာသာ သင်ကျောင်းတွင် စတင်ပညာသင်ကြား ပြီး နောက် ရန်ကုန်မြို့ ကူရှင်ကျောင်းသို့ရွှေ့ပြောင်းပညာ ဆည်းပူးရာ၊ ထိုကျောင်းမှပင် ဆယ်တန်းအောင်ခဲ့သည်။ ခရစ် ၁၉၂၄ ခုနှစ်ခန့်တွင် ရန်ကုန်ကောလိပ်သို့ ရောက်၍၊ အိုင်ဒအေ အထက်တန်းအထိ ဆက် လက် ပညာဆည်းပူးခဲ့လေသည်။

**အလင်္ကာကျော်စွာ**

**ဦးဘဂျမ်း**



အလင်္ကာကျော်စွာ ဦးဘဂျမ်း

ထို့နောက် ကျောင်းမှထွက်ကာ၊ စက်ရေနွေးအိုး စစ်ဆေးရေး အရာရှိချုပ်ရုံး ( ဘွိုင်လာ အင်စပက်တော် ချုပ်ရုံး ) တွင် တစ်နှစ်ကျော်ခန့်အလုပ်လုပ်သည်။ ယင်းကဲ့သို့ အစိုးရဌာန တစ်ခု၌ ဝင်ရောက် အလုပ်လုပ်ကိုင် ရာ၊ မလွတ်လပ်မှု၊ ချုပ်ချယ်မှုများကို တွေ့ကြုံလာရသည်။ ထိုစဉ်အတွင်း ငယ်စဉ်က ဝါသနာပါခဲ့သော ကာတွန်းပညာ ကို လေ့လာလိုက်စားခဲ့သည်။ ထို့နောက် အစိုးရ အလုပ်မှ နုတ်ထွက်လိုက်ကာ၊ ကာတွန်းများကို ရေးဆွဲပြီးလျှင် ထိုစဉ်က ရန်ကုန် ဂေဇက် သတင်းစာ အယ်ဒီတာချုပ် မစ္စတာ စမိုင်းထံ တင်ပြသည်။ မစ္စတာ စမိုင်းသည် ကာတွန်း ၃ ပုံကို ငွေ ၆၀ ပေး၍ ယူလိုက်သည်။ ထိုအခါမှစ၍ ကိုဘဂျမ်းသည် ပန်းချီ ဗလာ အနုပညာဖြင့် အသက် မွေးရန် စိတ်ပိုင်းဖြတ်ပြီးသော် ကာတွန်းများ ရေးဆွဲခဲ့ရာ အချို့ကာတွန်းများကို ရန်ကုန် ဂေဇက်သတင်းစာက ထည့်သွင်းဖော်ပြခဲ့လေသည်။

တစ်နေ့တွင် မြန်မာကာတွန်းများကို ပထမဆုံး ရေးဆွဲခဲ့သူ မစ္စတာ မာတင်ဂျူန်းနှင့် တွေ့ဆုံရသည်။ မာတင်ဂျူန်းသည် မီးရထားဌာန လက်ထောက်မင်းကြီးဖြစ်၍ ပန်းချီအနုပညာ အလွန်ဝါသနာ ပါပြီးလျှင် မိမိ၏ ပညာကိုလည်း ဝေငှဖြန့်ဖြူးပေးသူ ဖြစ်သည်။ ထိုပုဂ္ဂိုလ်ကြီးသည် ရေဆေးနှင့် အကချင်းပန်းချီတို့ကို နိုင်နင်း၍ ကာတွန်းဘက် တွင် လက်ရာပြောင်မြောက်သူ ဖြစ်သည်။ ထိုစဉ်က ဘားမား အတ်ကလပ်ခေါ် မြန်မာပြည် ပန်းချီ အသင်းတွင်လည်း ဥက္ကဋ္ဌဖြစ်၍ အသင်းတိုက်တွင် ပန်းချီသင်တန်းများ ပေးနေသည်။ မာတင်ဂျူန်းက ကိုဘဂျမ်း၏ လက်စွမ်း လက်စကို တွေ့မြင်သဖြင့် ကိုဘဂျမ်းနှင့် တွေ့ဆုံနိုင်အောင် စီစဉ်ခဲ့ခြင်း ဖြစ်သည်။ မာတင်ဂျူန်းသည် ကိုဘဂျမ်း၏ လက်စွမ်း လက်စကို တွေ့မြင်ပြီးဖြစ်၍ အလားအလာကို သိသဖြင့် မြေတောင်မြှောက်ပေးလိုသောကြောင့် မိမိ၏ သင်တန်းများသို့လာ၍ တက်ရန်ခေါ်သည်။ ထို့ကြောင့် ကိုဘဂျမ်းသည် ပန်းချီ သင်တန်းများကို တက်ရောက်ခဲ့ရာ၊ ထိုစဉ်က ထိုသင်တန်းများတွင် နောင်အခါ ကျော်ကြားသော အနုပညာသည်ကြီးများ ဖြစ်လာကြမည့် ကိုဘဇော်၊ ကိုအုန်းလွင်၊ ဆရာမြ၊ ကိုဟိန်စွန်းတို့လည်း တက်ရောက်ပညာဆည်းပူးလျက် ရှိကြလေသည်။

ဦးဘဂျမ်းသည် အနုပညာကို မြတ်နိုးသူဖြစ်သည်။ အနုပညာဘက်တွင် ကာတွန်းတစ်မျိုးထဲတွင်သာ ဝါသနာ ထုံသည်မဟုတ်ချေ။ ဓာတ်ပုံရိုက်ခြင်း၊ စာရေးခြင်းတို့၌လည်း ဝါသနာပါသည်။ ဓာတ်ပုံပညာဘက်တွင် အတော်အတန် ခေါက်မိသည်။ သုည ဟူသော ကလောင်အမည်ဖြင့် လည်း ဝတ္ထုတို၊ ဆောင်းပါးစသည်တို့ကို ရေးသားခဲ့၍ ညီမလေး အမည်ဖြင့် လုံးချင်းဝတ္ထု ထုတ်ခဲ့ဖူးသည်။ နာမည်ကျော် ဟာသ·စာရေးဆရာ သော်တာဆွေက မိမိ၏ ဟာသဝတ္ထုအချို့တွင် ဦးဘဂျမ်း၏ စိတ်ကူး၊ အကြံဉာဏ် ပေးချက်များ ပါရှိကြောင်း ဖွင့်ဟဝန်ခံဖူးသည်။ ဦးဘဂျမ်းသည် ဘလောက်တိုက် တစ်ခုလည်း တည်ထောင်ဖူး၍ ကိုယ်ပိုင် ကာတွန်းစာ စောင်ကိုလည်း ထုတ်ဝေခဲ့ဖူးသည်။

ဟာသကာတွန်းများသာမက၊ ကြော်ငြာကာတွန်းများ၊ ပုံပြင်ကာတွန်း ရုပ်စုံ များ၏ကိုလည်း ရေးသားခဲ့သည်။ ပဲရော့ ရုပ်ရှင်တွင် ပထမဆုံး မြန်မာကာတွန်းရုပ်ရှင် အသူရာ နှင့် ကြက်တောင်ကွ ဇာတ်ကားများကို စီစဉ်ရေးသား ရိုက်ကူးခဲ့လေသည်။

ဒုတိယကမ္ဘာစစ်ကြိုခေတ်တွင် သုရိယသတင်းစာမှ ဦး ဖျောက်ဆိပ် ကာတွန်းနှင့် စစ်ပြီးခေတ် ဟံသာဝတီ သတင်းစာမှ ချရာဏာသီ ကာတွန်းများကို အလွန်လူကြိုက်များသည်။ မြန်မာလူမျိုးတို့၏ စိတ်နေစိတ်ထား၊ မြန်မာနိုင်ငံရေး အခြေအနေတို့ကို အထေ့အငေါ့ ကလေး များဖြင့် သရော်ထားခြင်းဖြစ်ရာ၊ အဓိပ္ပာယ် ပေါ်လွင်၍ ထိလှမိလှပြီးလျှင် အကွက်ဆိုက် ခွင်ကျဝင် လှသော ကာတွန်း များ ဖြစ်ကြပေသည်။ သူ၏ ကာတွန်းရုပ်များကပင် အသက် ပါပါနှင့် ရယ်ရွှင်ဖွယ်ရာ ကောင်းသည်။ အထူးသဖြင့် ဦးဖျောက်ဆိပ် သည် သတင်းစာဖတ် ပရိသတ်၏ ပျော်တော်ဆက် အချစ်တော် ကာတွန်းဇာတ်လိုက်တစ်ဦး ဖြစ်ခဲ့သည်။ စစ်ကြိုခေတ် ကြီးပွားရေး မဂ္ဂဇင်းမှ ကိုပြုံးနှင့် မပြုံး၊ စစ်ပြီးခေတ် ယုဝတီဂျာနယ်မှ ဂွက်တော်၊ ရှုမဝမဂ္ဂဇင်းမှ လိပ် ကမ္ဘာမကြီး၊ နှမမုန့်ရောင်း မောင်မုန့်ထောင်း၊ နေကြာနန်းရှင် ရောင်စုံကာတွန်း ပုံပြင်တို့သည်လည်း ကလေးပရိသတ်များ၏ အသည်းစွဲများ ဖြစ်ကြသည်။



ဦးဘဂျမ်းသည် ငွေထက် စေတနာကို ပဓာနထားသူ ဖြစ်သည်။ သူ့အား အကူအညီ တောင်းလာလျှင် ငွေစကား မပြောဘဲ စေတနာစကားကိုသာ အမြဲပြောသူ ဖြစ်သည်။ အခ ကြေးငွေ အလွန်နည်းစွာ ယူသဖြင့် တပည့်များက မကြာခဏ ညည်းညူကြရသည်။ အစိုးရ ပြန်ကြားရေးဌာနက လစာငွေ ကောင်းကောင်း ပေး၍ အမှုထမ်းရန် ခေါ်သော်လည်း ငြင်းပယ် ခဲ့သည်။ နိုင်ငံခြား၌ ပညာဆည်းပူးရန် အစိုးရက စေလွှတ်မည် ဆိုသော်လည်း လိုလိုချင် ချင်မရှိ ငြင်းဆန်ခဲ့လေသည်။ ဆရာ ဦးဘဂျမ်းကား လိုချင်လောဘ နည်းပါးသည်။ စိတ်အေးအေးထား၍ ပျော်ပျော် နေတတ်သူ ဖြစ်သည်။ ကာတွန်းများဖြင့်သာ သူတစ်ပါးကို ရွှင်ပြုံးစေသည် မဟုတ်၊ အပေါင်းအသင်း မိတ်ဆွေများအား ရွှင်မြူးသော စကားလုံး များဖြင့် ရယ်ပြုံးအောင်လည်း ပြုနိုင်သူဖြစ်သည်။ ၁၂၉၈ ခုနှစ်တွင် ပဲခူးမြို့သူ မခင်ကြည်နှင့် လက်ဆက်ခဲ့သည်။ ဦးဘဂျမ်းနှင့် ဒေါ်ခင်ကြည်တို့၏ အိမ်ထောင်ရေးသည် လွန်စွာ ချမ်းမြေ့သာယာခဲ့သည်။ ဇနီးသည်အားလည်း အလွန် ကြင်နာမြတ်နိုးသည်။ ၁၃၁၀ ပြည့်နှစ်တွင် ဒေါ်ခင်ကြည်သည် သားဦးယောကျ်ားကလေး မွေးဖွားပြီးနောက် မကြာမီ ကွယ်လွန် ရာ ဦးဘဂျမ်းသည် အလွန်စိတ်ထိခိုက်သွားရှာသည်။ ထို့ ကြောင့် ဦးဘဂျမ်း၏ ဇာတ်လိုက်ကျော်ကြီး ဦးဖျောက်ဆိပ် သည် ရသေ့ဝတ်ဖြင့် ရသေ့ကြီး ဦးဖျောက်ဆိပ် ဖြစ်လာသည်။ ယင်းသို့ဖြင့် ဦးဘဂျမ်းသည် ဇနီးသည်အတွက် စိတ်ထိခိုက်ကာ သံဝေဂ ရနေကြောင်း သိရသည်။ သို့သော် မရှင်သည့် နှလုံးဖြင့်ပင် စာဖတ်ပရိသတ်များကို သူ၏ ကာတွန်းဇာတ်လိုက်များဖြင့် ရွှင်ပြုံးနိုင်အောင် ကြိုးစားဆောင် ရွက်ခဲ့သည်။

၁၉၄၈-၁၉၄၉ ခုနှစ်များတွင် ကရင်သောင်းကျန်းမှု များ ကြောင့် တိုင်းပြည်တစ်ပြည်လုံး ညှိုးချုံးနေကာ၊ ကျီးလန့်စာစား ဖြစ်နေကြသည့် အချိန်တွင် နိုင်ငံတော် အစိုးရ၏ တောင်းပန် ချက်အရ၊ ပြည်သူလူထု စိတ်ဓာတ် မကျဆင်းရလေအောင် ဦးဘဂျမ်းသည် ကာတွန်းများ ရေးဆွဲ၍ တစ်ဖက်တစ်လမ်းမှ ကူညီ ဆောင်ရွက်ပေးသည်။ ၁၉၅၀ ပြည့်နှစ်တွင် အမြတ် တော် ခွန် ကောက်ယူပုံကို မကျေနပ်သဖြင့်၊ ၃ လခန့် ကာတွန်းများ မရေးဆွဲဘဲ ထိုင်သပိတ် မှောက်နေခဲ့ရာ၊ စာနယ်ဇင်းများနှင့် စာဖတ်ပရိသတ်များ၏ တောင်းပန်မှု ကြောင့် ကာတွန်းများ ပြန်လည် ရေးဆွဲကာ အများပြည် သူတို့အား၊ ရွှင်ပြုံးစေခဲ့ ပြန်လေသည်။

၁၃၁၄ ခုနှစ် တပို့တွဲလပြည့်ကျော်ခန့်တွင် အနာ့ ပဆုပ် ပေါက်ကာ မကျန်းမမာ ဖြစ်လာပြီးလျှင် အရွယ်ကောင်း၊ နာမည်တက်ဆဲအချိန်၊ ထိုနှစ် တပေါင်းလဆန်း ၆ ရက် ဗုဒ္ဓဟူးနေ့( ၁၉၅၃ ခုနှစ် ဖေဖော်ဝါရီလ ၁၈ ရက်နေ့) တွင် ကွယ်လွန်အနိစ္စ ရောက်သွားရာ၊ မြန်မာနိုင်ငံ၏ အနုပညာရှင် သား ကောင်းတစ်ဦး ဆုံးရှုံးခဲ့ရပေသည်။ ဦးဘကလေး ( ရွှေ တလေး ) နှင့် ဦးဘဂျမ်းတို့ကဲ့သို့သော အနုပညာရှင်များ ဆုံးရှုံးရခြင်းသည် အစားထိုးရန် ခဲယဉ်း လှသော နိုင်ငံ၏ သားကောင်းများ ဆုံးရှုံးရခြင်းပေတည်း။ နိုင်ငံတော် အစိုးရက ကွယ်လွန်ပြီး နောက်တစ်နှစ်တွင် အလင်္ကာကျော်စွာ ဘွဲ့ဖြင့် ချီးမြှင့်လေသည်။ ဦးဘဂျမ်း နှင့် ဒေါ်ခင်ကြည်တို့မှ သားတစ်ယောက် ကျန်ရစ်လေ သည်။[၁]


တကယ်ဆိုတော့ မိမ္မများဟာ ငါဒို့ ယောကျ်ားတွေလို သတ္တိမရှိပါဘူး။ ကွာ၊ သူတို့က ယောကျ်ားတွေနဲ့ ရင်ဘောင်တန်းလေး ကာလေးနဲ့


အဲဒါတော့ မပြောနဲ့၊ သူဒို့က ယောကျ်ားထက် သတ္တိရှိတယ်
မဟုတ်ထာ


ဒါ မှန်နိုင်လွန်ဆိုတာ ရောက်လာပတဲ့၊ ရသေ့ကြီး သတ္တိ သူတို့ထက်ကောင်းရင် အဲဒီမှန်နိုင်လွန်ကို ဘောင်းဘီချုပ်ပြီး ဝတ်ရဲရဲ့လား၊


ဗမာပြည်မှာ-ရှေးကလို မှတ်လို့လား လက်နက်နဲ့သတ်ကြ-ခြေထိုးသတ်ကြ ကုန်တွေအမြတ်ကြီးယူပြီး ငတ်သေအောင်-သတ်ကြ-တရုပ်တန်းကလဲ ဆေးအတုတွေ-ဆီဖျော့တွေနဲ့သတ်ကြ ကားနဲ့တိုက်သတ်ကြ
အဝီစိ
ကိုင်းမင်းကြီး
လင်ကခိုး-မယားကအသင်းထောင်-ကွဲကြ ဆဲကြ-မြင်းလောင်းဖဲချ-ဂဇော်ရုပ် နိုင်လွန်အင်္ကျီချုပ်-လှမ်းကားမောင်း ဟောသလို-အမောက်ကြီးတွေလုပ်
အားလုံး-ဘယ်လောက်ရှုတ်တယ် မှတ်သလဲ- ဒါကြောင့်-မင်းတို့က ဒီမှာနေရတာ-ပူတယ်-အိုက်တယ်နဲ့ ညီးကြတယ်လို့-ငါကြားတယ်
ကိုင်း-သွားကြ- ဒီမှာနေချင်ရင်-ပျော်ပျော်ပါးပါး နေကြ-နောက်တခါ-ညီးတယ်လို့ကြားရင် မင်းတို့ကို-ဗမာပြည်ပို့လိုက်မယ်-


ဟေ့မောင်မြေရာ၊ ရေတခွက်ပေးစမ်းကွာ
ရေအိုးစင်ကလေးပြိုကျလို့ ဘဘရဲ့၊ အဲဒါ ဝန်ကြီးတရာနဲ့ ကိုးပါး လာကြည့်သွားကြပြီ အဲဒါပြင်ဖို့အတွက် စဉ်းစားကြလိမ့်မယ်.
စဉ်းစားပြီးတော့မှ တခြားနိုင်ငံတွေမှာ ဘယ်လိုပြင်တယ်ဆိုတာ လေ့လာဖို့ လူလွှတ်လိမ့်မယ်ဘဘရဲ့. အဲဒီလူ့က အစီရင်ခံတင်တော့မှ စဉ်းစားဖို့ အဖွဲ့ကြီးတခုဖွဲ့ရ မှာကိုး ဘဘရဲ့.
အဲဒီအဖွဲ့ကြီးကမှ ရေအိုးစင်ရဲ့ အခြေအနေကို ကြည့်ဖို့ အဖွဲ့ငယ် တခုဖွဲ့ရော၊ ပြီးတော့မှ အဲဒီအဖွဲ့ ငယ်က၊ ဘယ်နေ့ကို ကြည့်သင့်တယ် ဆိုတာကို သတ်မှတ်ဖို့
သူ့ထက်ငယ်တဲ့ ပိစိညှပ်အဖွဲ့ကလေး တခုကို ဖွဲ့ရမှာ၊ အဲဒီလို ဖွဲ့ပြီး တော့မှ ---
တော်ကွာ၊ ငါ့ဘာသာငါ လက်ယက်တွင်းတူးပြီး သောက်ပါတော့မယ် ရှေ့လိုက်ထာ၊


သူတို့တိုင်းပြည်က ရွေးကောက်ပွဲဟာ အေးအေးဆေးဆေး နဲ့ ပြီး သွားပြီလို့ သတင်းရပါကလား ဟဲ့ပေါ်ဦးရဲ့.
မှန်လှပါ သူတို့လူမျိုးရဲ့ စိတ်ထား အရ၊ သူတို့ကျေနပ်တဲ့နည်းနဲ့ လုပ်တဲ့ရွေးကောက်ပွဲဆိုတော့ အေးအေးနဲ့ ပြီးတာပေါ့ဘုရားပါ ဖရဲ
ကျွန်တော်မျိုးတို့ဆီမှာလဲ၊ ကျွန်တော်မျိုးတို့ကျေနပ်မဲ့စံနှုန်းကို အသုံးပြုခဲ့ရင်၊ အေးအေးဆေးဆေး နဲ့ ပြီးနိုင်တာပေါ့ဘုရား!
ဘယ်လိုလဲဟဲ့
အမတ်အရွေးခံတဲ့လူတွေ အားလုံးကို ခေါ်လိုက်၊ ခေါ်ပြီး အားလုံးကို အမတ်အဖြစ်ရွေးတယ် ဆိုပြီး ကြေငြာလိုက်၊ အဲဒါ အေးရော မဟုတ်လား၊
ဘလယ်ဒီဖူး!
ဘချမ်း


ရပ်ကွက်ထဲက ငဖြူး ထီပေါက်နေတယ်၊ ရုတ်တရက် ပြောလိုက်ရင်၊ ဝမ်းသာလုံးဆို့ပြီး ဒုက္ခဖြစ်သွားမလားလို့ အဘကို လာပြီးတိုင်ပင်တာဘဲ၊
အေးဟုတ်တယ်၊ ပြောတတ်ဘို့လိုတယ်၊ တရားနဲ့ယှဉ်ပြီး ပြောမှဖြစ်မယ်ကွဲ၊ ကိုင်းကွာ လာကြ၊ ငါဘဲပြောပါ့မယ်၊
ဟေ့မောင်ဖြူး၊ မင်းခုနေ-ငွေ၅သောင်း ရရင်၊ ဘယ်လိုနေမလဲ၊
ဘယ်လိုမှမနေပါဘူးဘကြာ၊ တကယ်သာရမယ်ဆိုရင် အဘတဝက်ယူဗျာ-ဘုရားစူး အဟုတ်ပြောတာ
ဟော့- လုပ်ကြပါအုံးကွ အဘ-ဝမ်းသာလုံးဆို့ပြီးတက်ထာ၊ နဲ့ကြီးသေသွားလိမ့်မယ် နှိပ်ကြပါအုံး


ဘယ်အလုပ်မျိုးမှာမဆို၊ ဝေဖန်မှု ဆိုတာရှိအပ်တယ် ဒကာကြီး၊ ဝေဖန် တဲ့အခါမှာလဲ နှစ်မျိုးရှိတယ်၊ အပြုဝေဖန်နည်း နဲ့ အဖျက် ဝေဖန်နည်း
အပြုဝေဖန်နည်းနဲ့ အဖျက် ဝေဖန်နည်း- ဘယ်လို ကွာခြားပါသလဲ ဘုရား
သူများလုပ်သမျှ ကိုယ်က ဝေဖန်တာကို၊ အပြု ဝေဖန်နည်းလို့ ခေါ်တယ်၊ ကိုယ်လုပ်သမျှလာပြီး ဝေဖန်တာကို၊ အဖျက်ဝေဖန် ရေးလို့ခေါ်တယ်၊ မှတ်ထား ဒကာကြီးရဲ့၊ ကျုပ်တို့ ခုလိုတိုးတက်လာ တာလဲ၊ အဲဒါကို နားလယ်လို့ပေ့ - သိလား၊



တက္ကသိုလ်မှာ ကျောင်းသားအတော်များ ပါလား-ဆရာကြီး
ကျောင်းလွှတ်ပြီ-ကျောင်းလွှတ်ပြီ- တက္ကသိုလ်ကျောင်းလွှတ်ပြီ
ဟာ-ဆရာကြီး ဘာလုပ်တာလဲ-မတော်တာ
ဒါက-ချာရာကာသီတက္ကသိုလ်ဥပဒေသစ်ကြောင့် ရှေးကတော့-ပြန်ဒါနီးမှာ-တပည့်ကဆရာကို ကျေးဇူးတင်တဲ့အနေနဲ့-ကန်တော့ရတယ်-ခုတော့ ဆရာက-တပည့်ကို-ရွှေကိုယ်တော်များ-ပညာကို ကျိုးစားကြပါ-တော်မနိုင်ပါနဲ့-သပိတ်မမှောက် ပါနဲ့-ဆရာ့ကိုလဲ-ညံ့တယ်ဆိုပြီး-အလုပ် မဖြုတ်ပါနဲ့လို့ — နေ့တိုင်းကန်တော့ ရတယ်ကွ



အစွမ်းကုန်ရိုးသားကြပါ
ဆိုလို့-ဂိုဒေါင်ဖောက်
ခိုးကောင်း-ခိုးဝယ်လုပ်ပြီး
ရိုးသားပုံတွေကိုပြခဲ့ကြပြီ



အစွမ်းကုန်ညီညွတ်ကြပါ
ဆိုလို့-အချင်းချင်းရှိသမျှ
လက်နက်ခလေးနဲ့-အကြီး
အကျယ်-အုပ်ပြီး-ညီညွတ်ပုံ
ကလေးတွေကိုပြကြပြီ



အစွမ်းကုန်အလုပ်လုပ်ကြပါ ဆိုလို့
မနားမနေ လုကြ-ခိုးကြ-တိုက်ကြ



ဒါလောက်ကြိုးစားရက်နဲ့
ခုထက်ထိ-သူတို့ပြောတဲ့
ရွှေမိုးယိုင်းငွေမိုးယိုင်းမရွာ
သေးတာ-ဘာကြောင့်ပါလိမ့်၊


ဟိုအကောင်ကြီး- ငါပြုံးပြီးဖနောင့်နဲ့ ပေါက်လိုက်ရင် သေပြန်ရောမယ်
ဗလကောင်းပါ ပေတယ်-အာဂ ယောကျ်ားပါဘဲ
သနားပါတယ် ဆရာရယ်-ချမ်း သာပေးပါ
ဂရုံဂေဟာအဝ-လေသင်တုန်းဖြတ်၍-ဒုလော ဝမ်းသွားနေသော-ပေါင်တုတ်ဦးသည် ဆင်ပြောင်ကြီးကိုကြိမ်းဝါးလေ၏
သူ့ကိုယ်ကို-တကယ့် လူစွမ်းကောင်းထင်၏ မစဉ်းစားသောသူကလည်း တကယ်စွမ်းပါပေသည်ဟု ချီးကျူး၏
သို့သော်-ဆင်လေလည်ရုံမျှဖြင့် လေမှန်၍ဇက်ကျိုးကာ-သင်တုန်း ဒုလောပေါင်တုတ်ဆရာမှာ-ထိုနေရာတွင်
ပွဲချင်းပြီးလေသတည်း-ဒို့လူထု- နေရာတကာတွင်-ချင့်ချိန်၍ ယုံကြကုန်လော့


ဆန္ဒမဲ ပေးတော်မူပါ
၂၀-၂-၅၂


ဒီဟာတွေပြုပြင်ပေးတော်မူပါ
၂၁-၂-၅၂


ရှေးသရောအခါ၊ နိုင်ငံရေးပညာရှိ
အကြံပေးပညာရှိ၊ သတင်းစာဆရာပညာရှိ
စသဖြင့် ပညာရှိများသာနေထိုင်ကြသော
တိုင်းပြည်တစုတွင်၊ တယောက်တပေါက်
ပြောကြရင်း-အလွဲလွဲအချော်ချော်
လုပ်ကြသော်လည်း


ကာတွန်းဆရာပညာရှိ
သစ္စာရှိသောအမှုထမ်းများ၏
စောင့်ရှောက်မှုကြောင့်၊ ရှိသမျှ
ပစ္စည်းများပြောင်ရှင်း-အကြီးအကျယ်
ကိုင်ကျလေလျှင်


အမြတ်ကိုမကြည့်-အမျိုးသားများ၏
အကျိုးကိုသာ အမြဲကြည့်သောကုန်သည်
ကြီးငယ်များကဝင်၍၊ အင်တိုက်အားတိုက်
ကယ်တင်လိုက်သဖြင့် တိုင်းပြည်
ငတ်လေရာ


ပညာရှိတို့၏ မာန်မာနဖြင့်-"ရွှေတွင်း
ငွေတွင်း၊ ပယင်းနဏ္ဍာ၊ ရတနာဆန်၊ သစ်
ပိုင်သောငါတို့ကား၊ မည်သည်ကိုမျှရအံ့
နည်း" ဟု ကြုံးဝါးကာ၊ ငွေချေးရန်
နိုင်ငံမှ ထွက်ကြလေသတည်း။


သင်္ကြန်တွင်းမှာ သိကြားမင်း လူ့ပြည်ကိုဆင်းတယ်ဆိုတဲ့ မင်းက မယုံဘူးဆို ငါ သိကြားကွ
ဟုတ်လား လက်ထဲက ဟာက ဘာလဲ
မကောင်းမှုလုပ်တဲ့နေ့တွေရဲ့ - နံမယ်တွေ မှတ်ဘို့ - ခွေးရေပုရပိုက်ကွ
အင်္ဂလန်တို့ အမေရိကတို့ ရုရှတို့ကမကောင်းတဲ့ နေ့တွေနံမယ်ကော - မှတ် ပေးသလား
ဒီ ဗဟိုကွ သင်္ကြန်မှာ ဗမာပြည်ကိုသာဆင်းတာ သူတို့စကားကိုငါမှ နားမလည်ဘဲ သူတို့ဆီဆင်းလို့ အမိုက်ပေါ့
ဟယ် - ဒီမှာ အချင်းချင်းအုပ်လွန်းလို့ ဒုက္ခများနေရတဲ့အထဲ - ခင်ဗျားက နိုင်ငံခြားတော့အရေးမယူ - ဘာသာတူ အချင်းချင်းကိုမှ ကျောက်တွန်း အုံးမယ်ပေါ့လေ - ကိုင်း - တွန်းအုံးကွာ


မိ.ဖ မိ.ဘ များ ခင်ဗျား.. ကျွန်တော်တို့ကို ပစ်မထားပါနဲ့၊ လက်ရှိ ပညာရေးစံနစ်ဆိုးကြီးကို ကျ.သိ တိုက်ဖျက်ပေးကြပါ၊
ကျောင်းသားများ အကျိုးရှိမည့် ကိစ္စတွေကို ပိတ်ပင်နေပါတယ်၊ အကျိုးမရှိမည့် ပျက်စီးရာ ပျက်စီးကြောင်း ကိစ္စတွေကို ရွှတ်အလုပ် ခိုင်းနေပါတယ်၊
ဘယ်လို ဖြစ်လာကြပြန်တာလဲ မောင်တို့ရာ၊ ဘာတွေရွှတ်အလုပ် ခိုင်းကြတာလဲ၊
ခက်ကုန်ပြီဗျ၊ ကျောင်းထဲဝင်မိတာနဲ့ နိုင်ငံရေးသမားရဲ့ ခုတုံး မလုပ်ရဘူးတဲ့ အလကားနေရင်း စာတွေချည့် သင်ပေးနေတယ်၊ ဘယ်တော့ သောက်သုံးကျအုံးမှာလဲ၊


ဟေ့ ချာလံဒေဝ၊ မနေ့က ငါ့သမီး ဈေးကအပြန်မှာ မင်းက၊ လက်ကိုဆွဲတယ်ဆို၊
ရုပ်ဝါဒအရ၊ အဲဒါကို၊ လက်ဆွဲတယ်လို့ မဆိုနိုင်ဘူး၊ ရုပ်တခုနဲ့ တခု၊ မတော်တဆ၊ ထိမိတာဗျ၊
အော်- မင်းက ဒါကိုသိသလား၊ မင်းပြောသလို၊ မတော်တဆထိမိ တဲ့အခါမှာ မခံနိုင်တဲ့ရုပ်တခုက ပေါသလို ဝင်ပြီးထိလိုက်ရင်
မင့်မှာခုလို- နံရိုးကျိုးသွားတာ ကိုလဲ၊ နံဝါဒလို့ခေါ်တယ်ကွ သိလား၊






ရွေးကောက်ပွဲကျင်းပရန် တရက်သာ ကျန်တော့ရာ၊ အမတ်လောင်းများ နှလုံးတုန်လှသဖြင့်၊ နှလုံးငြိမ် စေရန် - ထိုင်ချ်နေကြရရှာအံ့၊



အချို့ကား - မျှောက်ငုပ်အုံ ထိုင်မိသလို၊ နေမထိထိုင်မထိ ဖြစ်ခါ ပြာယာခတ်ရှ်နေကြ ကုန်အံ့၊



အရွေးခံရသော အမတ်အချို့ ဝမ်းသာလုံးဆို့ကာ၊ လေသင်ဒုန်းပါ ဝင်၍ဖြတ်သဖြင့်၊ မတ်တက်က ဒိုးဘုံးလဲအံ့၊



အရွေးမခံရသော အမတ်အချို့ မခံမရပ်နိုင်ဖြစ်လျက်၊ ကန့်ကွက် မှုသည်ဟု အော်ဟစ်ရင်း ဒေါသ စိတ်ထန်လှသဖြင့်၊ ဝက်ရူး စပါယ်ရှယ်ပြန်အံ့၊


လူထုအကျိုးကို ကြည့်ပြီးလုပ်တဲ့ အစိုးရဆိုရင်၊ ဘယ်အခါမဆို လူထုက ထောက်ခံမှာချည့်ဘဲ ဘုရား၊ ဒါပါ ဓမ္မတာဘဲ၊


လူထုအကြိုက်လိုက်ဆိုပါဗျာ၊ လူထုအကျိုးကို ကြည့်လုပ်တိုင်း၊ လူထုက ကြိုက်မယ်ထင်သလား၊ ခုနေ၊ ပေါင်ဒါ၊ ချွတ်ခမ်းဆိုးဆေး၊ နိုင်လွန် စီးကရက်၊ အရက်၊ အားလုံးမသုံးရ ဆိုတဲ့အမိန့် တခုထုတ်ကြည့်စမ်းပါလား


ဒီနေ့ထုတ်၊ မနက်ဖြန် လူထုအုံကြွလို့ ဒီအစိုးရ ပြုတ်မယ်သိလား၊ လူထုအုံမကြွခင် အစိုးရ ရပ်ကွက်က၊ မသောက်ရရင် မနေနိုင်တဲ့၊ ဆရာတွေက၊ အရင်တော်ရှိမှာ—



အလိုဂွကျား-သေပါပြီကွာ အမယ်ကြီး၊ လဲလိုက်တာ အတော်နာသွားတယ်ထင်တယ်
နေ့အုံးအဘ မထနဲ့အုံး မထနဲ့အုံး
အမေကြီး၊ ခင်များအပြာလား ခရမ်းရောင်လား၊ တောင်လား မြောက်လား
မြောက်ပါ မြေးရယ်
ပါအဘ သွားမယ် ကျ့ကိုမလိုဘူး၊ သူ့ဟာသာ သူ-ထနိုင်ရင်ထ မထနိုင်ရင်သေပေါ့
ဟော့မြေးရာ ရက်စက်လှပါကလား
ဒါဟာ-ချာဂရာဏသီထုံးစံအဘရဲ့ သူက မြောက်ပါဒ-ကျုပ်က ခရမ်းရောင်-ပါဒချင်းတူတာမှ မဟုတ်ဘဲ၊ ကျ့လို့ဖြစ်ရိုးလား၊
ဆန်းပါပေ့ကွ ဝို


ဟောဟိုသတင်းစာဖတ်နေတဲ့ မုဆိုးဖိုဟာ ဆုရာတသိန်းက၊ ပေါယ်ရှယ် ဝေကန့်ရေးဆရာပေါ့အကိုရဲ့.
အကြက်ကက်မှာ သူ့ထက်တတ်တဲ့ နားလည်တာမရှိပါဘူး အကိုရာ၊ ကာမြင်မြင် သူ့ဝေကန့်လိုက်ရင် ရှင်းသွားတာပါပဲ၊


တယ်တော်တဲ့လူပါကလား၊ ဟာ- ကာမြင်ထဲလဲဟာ၊ သတင်းစာဖတ်ရာက ကာမြင်လို့ ထိုင်ပြီးငိုတာလဲကွ
ဒါက- သူ့ကိုတခြားလူက သတင်းစာထဲကနေပြီး ဝေကန့်ပြန့်ပြီးထင်တယ် အကိုရဲ့၊ သူ့ကိုဝေကန့်ရင် ဒေါသမှတ်ပြီး အဲသလို ထိုင်ထိုင်ပြီးငိုတာကဲ အကိုရာ၊ မသိရှိသေးတော့ ဒီလိုပေါ့၊


ပင်လယ်ဝေမျှ
ရေတောကြလည်း
ဟေ့ အသက်ပြင်းပြင်းမရှူနဲ့ကွ၊
ကောကို ရေတစ်စက်လွင့်
သွားပြီး ဖြစ်ရဲ့လား
ဘောကနောက်ဆုံးရှိချေသေး၊


ကဲ-မင်းတို့ကိုစီရင်ချက်မချခင်-ပြီးခဲ့တဲ့ သင်္ကြန်တွင်းတုန်းက ဘာတွေများလုပ်ခဲ့တယ် ဆိုတာ တယောက်စီ ငါ့ကိုမှန်မှန်ပြောကြစမ်း
ကျွန်တော်ကတော့-မကြားဝံ့မနာသာတွေ လမ်းတကာလျှောက်အော်ခဲ့ပါတယ်ခင်ဗျာ-
ကျွန်မကတော့-ဖက်ရှင်အဆန်းဝတ်ပြီး ဟောဒီလိုကြောမျိုးနဲ့ရှိုးလျှောက်ကန်းပြရင်း ရေခံထွက်ခဲ့ပါတယ်ရှင် —
အဝီစိ တိုင်းမင်းကြီး
ကျွန်တော်ကတော့-သူတို့လို သောက်ကြမူးမထောင်ဘဲ-နေ့ရောညရော အကျယ်ဆုံးအသံချဲ့စက်နဲ့ဓါတ်ပြားတွေ ဖွင့်ပြီး အလှူလုပ်ခဲ့ပါတယ်ခင်ဗျာ-
အိမ်း-ကောင်းပြီ-မင်းတို့နှစ်ယောက်ကတော့ အဝီစိမှာအနှစ်တကုဋေငရဲခံစေ-အသံချဲ့စက် နဲ့ဓါတ်ပြားဖွင့်တဲ့အကောင်ကတော့-လူထုနား မချမ်းသာအောင်လုပ်တဲ့ ပြစ်မှုအတွက် အမြဲတမ်းနားကန်း-နားပင်းဖြစ်နေအောင် နားထဲကို-ငရဲမီးလောင်းပြီးလူ့ပြည်ပြန် လွှတ်စေ-အမိန့်တော် —


ဟေ့-မောင်မြရာ ရွှေ့ကလူတွေဟာ ဘာလုပ်နေကြတာလဲဟ
အဲဒါ-ချာကုလားသီရဲ့ အရေးပေါ်ကိစ္စကဲ့- မသန့်ရှင်းတဲ့လူကို ဖမ်းတဲ့ပွဲပေါ့- အဘရ
နေရာကျသကွာ နေစမ်းပါအုံး ကြည့်ရအောင်
လာပါ-အဘရာ ကြည့်မနေပါနဲ့ မိမှာမဟုတ် ပါဘူး
သေသေချာချာ ရှာနေတာကဲ မိမှာပေါ့ကွ
မမိဘူးအဘ စိတ်သာချ- လောင်းချင်ရင်လောင်း လိုက်အုံး-
သူတို့ဖမ်းချင်တဲ့အကောင်က သူတို့နဲ့အတူရောပြီး-လူသန့်ရှင်း လုပ်နေတာကဲ-အလကားရှာလို့ တွေ့နိုင်ပါ့မလား


အိမ်ရှေ့အိမ်က လူဟာ၊ အလုပ်သွားခါနီးတိုင်း
သူ့မိန်းမကို နမ်းပြီး သွားတာကို၊ ကျွန်မ
အိမ်ပေါ်ထပ်က၊ ခဏခဏ မြင်တယ်
အဲဒါဘာဖြစ်သလဲ
ရှင်လဲ-အလုပ်သွားခါနီးမှာ
အဲဟိုလူ့လိုလုပ်ပါလား
ဟာ- မဖြစ်နိုင်တာကွာ၊ သူ့မိန်းမကို
ဒီလိုသွားလုပ်လို့၊ ဟိုလူက အလကား
ခံမလားကွ၊



သင်္ကြန်ရေကစားခြင်းမှာ-ရှေးအခါက
နှစ်ဦးနှစ်ဘက်ပျော်ရန် ဖြစ်သော်လည်း



ယခုခေတ်တွင်မှာ-တဘက်လူ
မခံချင်အောင်ကြံစည်ကြရာမှ



တဆင့်တက်ပါ-ရေပက်ခံရသူမှာ-မရှု
မလှဖြစ်အောင်ကြိုးစားခဲ့ကြပေပြီ



ထိုထက်တိုးတက်ပြန်-သေခါမှ
လက်လွှတ်သော ရေကစားနည်း



ယခုနှစ်များထက်-မကြာခင်-မနှာသာ
မင်္ဂလာကျော်ဒွန်းဆက်နည်းမျိုး စသဖြင့်



ကြက်သရေတိုးစရာနည်း
အမျိုးမျိုးကို-ရှာဖွေ-ပျော်ပါး
နိုင်ကြစေသတည်း။

ဗမာပြည်လွတ်လပ်ချိန်မှ
စ၍၊ ယနေ့အထိအချို့သော
နိုင်ငံရေးသမားများရရှိခဲ့သော
ဂုဏ်ထူးများမှာ၊ ဖော်ပြပါ
အတိုင်းဖြစ်ပါကြောင်း































နောင်ရအံ့ရလတံ့သော
ဂုဏ်ထူးများကို
အခွင့်သင့်တိုင်း
ဆက်လက်ဖော်ပြမည်
ဖြစ်ကြောင်း၊ ဝမ်းမြောက်
ဝမ်းသာ ကြေငြာအပ်
ပါသတည်း၊

ကိုယ့်-ပုံကို-ကိုယ်ပြန်ရိုက်
နေသော ဓါတ်ပုံဝိဇ္ဇာ




ဟဲ့ကောင်လေး၊ နင့်တော်လှန်ရေး
- တော်ရုံတန်ရုံလှန်ပါနဲ့
သူများမြှောက်ပေးတိုင်း မြင်မကောင်း
အောင် လှန်ရသလား၊ နင် သောက်ရှက်
မရှိဘူးလား ဟင်၊

ဦးပျော်ကံဆိုင်ရဲ့



သတိ-အလေးပြု-နေမြ







ကျုပ်တရားပွဲမှာ၊ မေးချင်တာမေးပါ၊ ကိုင်း-ဟော့ပြီ၊--- ငါတို့ဟာ ပဒေသရာဇ် ဖိကရာဇ် စံနစ်ကို ဖျက်ရမယ်--
ဒါတွေဖျက်ပြီး ကျွန်စံနစ်၊ သပေါက် စံနစ်ထူထောင်မှာလား


တော်လှန်မှုမရှိရင်၊ မတိုးတက်နိုင်ဘူး၊ အမြဲတော်လှန်နေရမယ်
ဒါဖြင့်၊ တသက်လုံး အေးအေးမနေရတော့ဘူးလား


ဓနရှင်နိုင်ငံက၊ အကူအညီ မယူရဘူး
ဒါဖြင့်၊ ငွေလိုရင် ဘယ်ဆဒ္ဒါလနိုင်ငံက တောင်းရမှာလဲ


လူတန်းစားပပျောက်ရေးကို ရှေ့ရှုရမယ်၊ ဟေ့-မအေပေး၊ ခွေးသား-မင်းတော်နော်၊ ဘာမှ မမေးနဲ့ ငါဆင်းပြီး၊ သံဒုတ်နဲ့ ရိုက်မိလိမ့်မယ်
ဒါဖြင့်----


မင်းတို့ဗမာပြည်က-လွတ်လပ်ခါမှ- လာတဲ့လူတွေတယ်များပါကလား-ဟေ့ လာကြ-လာကြ-ကူးတို့ခပါကြရဲ့နော်
ယမကူးတို့
ဒါနဲ့-စကားမစပ်-မင်းဒီလိုကူးတို့ ပို့နေတာ-လိုင်စင်ရှိရဲ့လား၊
ဘာလဲကွ-လိုင်စင်ဆိုတာ
ဟဲ-မင်းခုလိုပို့နေတာ-အနှစ်ပေါင်း ကြာလှပြီ-လိုင်စင်မရှိဘူးပေါ့လေ- ခွေးမသား-လာ-ဂိတ်ကိုလိုက်ခဲ့၊
မသိလို့ပါဆရာရယ်-လိုင်စင်ယူ ပါ့မယ်-ဒီတခါချမ်းသာပေးပါ- ဟောဒီငွေသုံးကျပ်လက်ရှိကိုး ယူပါ-ဒါအကုန်ပါဘဲ၊
မင်းတို့ဝိတ်ခက်ထားဘဲ-ဒို့ကဖမ်းတော့ သွင်းတယ်လို့ပြောတယ်-မင်းတို့လုပ်ပုံက ဟုတ်မှ-မဟုတ်ဘဲ၊



မင်းတို့ပြည်မှာတုံးက ဘာလုပ်ကိုင်စားသောက်သလဲ
တာဝတိံသာ ရေစစ္စလီရုံးတော်
ပဌမကျွန်တော် ရကသမှာလုပ်တယ် နောက်တကသကိုဝင်ပြီး၊ ဒီကတဆင့် မလတစကိုဝင်လုပ်တယ်၊ နောက်တခါ မဆပလကိုပြောင်းလုပ်သေးတယ် အဲဒီကနေပြီး မတလစကိုဝင်ပြီးလုပ် သေးတယ်
နောက်ဆုံးတော့ စပကသကိုဝင်လုပ် တာပါဘဲ၊ ခုလဲစပကသထဲမှာဘဲ၊ စပကသကသိတ်နိုတ်တယ်ဗျ ခင်ဗျားတို့ဆီမှာကော စပကသ မရှိဘူးလား၊ ခင်ဗျားကိုကြည့်ရတာ စပကသနဲ့တူတာဘဲ၊
မဟုတ်ထာကွာ၊ ဘုရား ရှား:ရစေရဲ့
ဒီငနဲကို ဘယ်ပို့မလဲကွ၊ ငါတော့သူပြော တာတွေ၊ ဘာမှနားမလည်ဘူးကွာ၊ သစ်သစ်ပတ်ပတ်တွေပြောနေတယ် ထင်တာဘဲ
ဒါဖြင့် ခနချုပ်ထားပေါ့ဗျာ ကျုပ်တို့ပြည်ဆင်းပြီး စုံစမ်းလိုက်အုံးမယ်၊


ဦ- နေပါအုံး၊ အရှင်ဘုရား ကြက်ကိုဝင်ဆွဲသွားတဲ၊ ဥစ္စာရှင်က မီးရောင်မှာ သေသေချာချာ မြင်လိုက်တယ်ဆိုပါကလား ဘုရား
ကျုပ် အဲဒီညက၊ ရွာမှာတောင် မရှိဘူး၊ ကိစ္စရှိလို့ ခရီးထွက်နေတယ် ခင်ဗျားက၊ ဘာအူတူတူ ပြောတာလဲ ဒွတ်- ဆာလား
ထွီ- မင်းတို့ချာရာတာ သီသျှကြီးက ဘာလဲကွ၊ ကြက်ခိုးတဲ့ကိန်းခါးကို စစ်ဆေးတာ၊ ဘုရားတွေဘာတွေနဲ့ တရိတသေ၊ ဘာဖြစ်တာလဲ
အာကာကမသိဘဲနဲ့၊ ဒီကိန်းခါးက ပါတီသောက်ခံ ရှိတယ်ဗျ၊ သူ့ကို ပေါက်ငန်းဖြီး စစ်ဆေးမိလို့ အလုပ်ပြုတ်တာ၊ သူကြီး ရှစ်ယောက်ရှိပြီ သိလား၊


လူ့အခွင့်အရေးနဲ့ပတ်သက်လို့ ရုရှပညာရှိကြီး ဆော်တော့ဝကီးက၊ အဲသလိုဆိုပါတယ်၊ တရုပ်ပညာရှိကြီး လော်ခံထောင်ကလဲ၊ လူ့၏အခွင့်အရေးဟာ၊ အခွင့်အရေးဖြစ်လို့ ဆိုပါတယ်---


သူများအဆိုတွေချည့်ပြောနေတာကိုးဗျ၊ ခင်ဗျားက ဘယ်လိုဆိုသလဲ၊ လုပ်စမ်းပါအုံး


ဟေ့-ငါက ခက်ရှင်းရှင်းပြောရရင် ဘယ်လိုမှမဆိုတတ်ဘူးကွာ-ကဲ ဘာဖြစ်သေးသလဲ၊


ဟေ့၊ ဘာဖြစ်ကြတာလဲကွာ၊
လမ်းမကြီးမှာ၊ ရှက်စရာ


တပည့်တော်က၊ အရင်နှစ်နဲ့ဆိုရင်၊ ခု အခြေအနေအပုံကြီးကောင်းလာလို့ ငြိမ်းချမ်းရေးရပြီလို့ပြောတာ၊ သူက ဒါငြိမ်းချမ်းရေးရတယ်ခေါ်သလား ဆိုပြီး၊ လိုက်ထိုးတယ်ဘုရား···


မင်းတို့ဟာက၊ ငြိမ်းချမ်းရေးကိစ္စနဲ့ ပါတ်သက်တာတောင်၊ မငြိမ်းမချမ်း ဆော်ရသေးတာကိုးကွ၊ ဆို.. စိတ်ပျက်စရာပါဘဲကွာ၊


ကျွန်တော်တို့ဆရာရာတာသီက၊ အစား
အသောက်နဲ့ အဟာရဓာတ်ကို စုံစမ်းဘို့
ရောက်လာတဲ့ ပါရဂူကြီး အဘရဲ့.


မောင်မြေကြာခုလို ပိန်ကပ်ကပ်
ဖြစ်နေတာ ဘယ်အာဟာရဓာတ်များ
ချို့ယွင်းနေလို့လဲ ဆရာကြီးရဲ့.


သူ့စားတဲ့ အစာထဲမှာ ကွီနိုင်အများကြီး
ထည့်စားဘို့ လိုနေတာကို တွေ့ရတယ်
ကွီနိုင်အများကြီး
စားရင် နားထိုင်းတယ်ဆို


ဟုတ်တယ်၊ နားထိုင်းရင် ဒိုင်ဝင်ရေး
သွားတွေပြောတာ သူ့မကြားဘူး၊
စိတ်ချမ်းသာမယ်၊ အလုပ်
ကောင်းကောင်းလုပ်မယ်၊ ဝလာမယ်၊


ကြည့်နေကြဗျနော် အရပ်ကတို့၊ တော်တော်ကြာရင် အခုတိုက်နေတဲ့လေတွေရပ်သွားပြီး၊ ကျုပ်ဟာကျုပ် ဒုံရင်းကိုပဲပြန်ပြီးကျလိမ့်မယ်ဗျ၊
ခုနေတော့ လေတဖြူးဖြူးနဲ့ တော်တော်ငြိမ့်အရှိသား
လူတကိုယ်ပလ္လင် တလုံးနဲ့ထိုင်ရစေမယ်
ကျုပ်အမတ်ဖြစ်ရင် ခင်ဗျားများသိန်းထီ ပေါက်ထားနဲ့အတူတူပဲလို့ မှတ်လိုက်ဗျ၊
ခင်ဗျားရဲ့လက်ရှိ အခြေအနေကို မြှင့်ပေးချင်လွန်းလို့ အရွေးခံတာပါ၊
ဒီကဝဆိုးကြီးထဲက ကျုပ်ဆွဲတင်ချင်လွန်းလို့ အရွေးခံတာပါ·
ဆင်းရဲသားမရှိရဘူး အားလုံးသူဌေးချည်း ဖြစ်ရမယ်၊ ကျုပ်က အမတ်၊ ခင်ဗျားက သူဌေး.


တပည့်တော် ဂျာမနီရဲ့ တိုးတက်မှုကို သွားပြီး လေ့လာခဲ့တယ် ဘုရား၊ သူတို့ဆီမှာ သိတ်ပြီး တိုးတက်တာပဲ၊ သင်္ဘောကျင်းကြီးတွေဆိုလဲ သိတ်ကြီး ကျယ်ခမ်းနားတာပဲ၊


ကျုပ်တို့ဆီက ဒလ သင်္ဘောကျင်းနဲ့ ဘယ်လိုနေသလဲ၊


ဒါတော့ ဘယ်သိမလဲ၊ ဒလသင်္ဘောကျင်းကို တပည့်တော်မှ မရောက်ဖူးဘဲ၊


မင်းတို့ကျောမွဲ့ အင်အားပြပွဲမှာ
ဂိုက်နဲ့ ဆိုက်နဲ့ လူတွေလဲ
အတော်များပါကလား ကွ


သူတို့က၊ တိုးတက်သောပြည်ချစ်
အရင်းရှင်ပေါက်စတွေတဲ့ အာဂရဲ့
ကျွန်တော်တို့အဖွဲ့ထဲမှာ သူတို့လဲ
ပါတယ်အာဂရ


ပေါက်စဆိုတာမျိုးဟာ တဖြည်းဖြည်း
ကြီးလာတာမျိုးကွ၊ သူတို့ဟာ အလုပ်
အကိုင် အပေါက်အလမ်းတည့်လို့
အရင်းရှင်ကြီးတွေဖြစ်လာတော့
မင်းတို့ ဘယ့်နှယ်လုပ်မလဲ


အဲတော့ကိစ္စမရှိပါဘူး အာဂရာ
ကျွန်တော်တို့အဖွဲ့ရဲ့ ဥပဒေအရ
အရင်းရှင်ပေါက်စဟာ၊ ပေါက်စ
အဖြစ်နဲ့တသက်လုံး မနေဘဲ၊ သွေဖီပြီး
အရင်းရှင်ကြီးဖြစ်လာရင်၊ အပြုတ်
ဆော်ရမှာဘဲ၊ မွေးပြီး လည်လှီးတဲ့
စနစ်ပေါ့၊
ဆန်းသကွာ၊


ဒီပြောခဲ့တဲ့ အခွင့်အရေးတွေကို ကျုပ်အမတ်ဖြစ်လို့မှ၊ ခင်ဗျားတို့ မခံစားရရင်၊ ခုချိန်းနေတဲ့မိုးကြိုး ပစ်လို့ ခေါင်းလေးစိတ်ကွဲရစေရဲ့. ကျုပ်ကိုယ်ကျုပ် သတ်သေမယ်


ခုချိန်းနေတဲ့ မိုးကြိုးပစ်လို့ဖင်ရှစ်စိတ် ကွဲရစေရဲ့၊ တောင်သူလယ်သမားတွေ နိုင်ငံခြားကို သွားပို့ကိုး၊ ပင်လယ်ကူး သင်္ဘောတစင်းစီ ဝယ်ပေးမယ်


ဟဲ့ဟာ- မိုးဦးလေဦးကြီးမှာ တယ်ပြီး အကျိန်ရဲတဲ့လူပါကလား၊ သေသေ ကြေကြေ အဟုတ်ကြံခဲ့ လူနဲ့တူတယ် ဆရာ


အလကားနေပါ၊ အကျိန်ရဲမှာပေါ့ မိုးကြိုးပစ်လို့သော သူက ဘာအရေး ရိုက်မလဲ၊ သူ့ဖင်မှာ မိုးကြိုးလွှဲ တတ်ထားတာ- ကြည့်ပါလား၊


ဂျူလေးဝင်လာတာနဲ့ ဟိုဒကာကြီးက ထသွားတာ ကာသကောလဲကျွတ်တယ်ပြီ မသဒိ မြင်ကြဘူးလား၊


အချို့မှန်းသိရင် မဝင်ဘူး ဂုဏ၊ သူနဲ့ တပည့်တော်နဲ့က ကမ္ဘာ့ငြိမ်းချမ်းရေး အတွက် ဝင်ပြိုင်လုပ်နေကြတာ


ဒါပေမဲ့ တဒချင်းမတူတော့ တယောက် မျက်နှာတယောက်ကြည့်ရတာ၊ ကယ်လိုများ ရှက်လုံးနာပြီး ယောက်မျှင်တပ်မှန်းမသိ ပါဘူး၊ တကမ္ဘာလုံးငြိမ်းချမ်းတော့ ဒင်းတို့ပါတီတခုထဲကျွတ်ပြီး မငြိမ်းချမ်း ပါစေနဲ့၊


ထောင်သားသုံးယောက် အဝါတော် ခံပြီးဆန္ဒပြနေကြတယ် ထောင်မှူးကြီး
ဟေ-ဟုတ်လား


ဟေ့ မင်းတို့က၊ ဘာလိုလားချက် မရလို့ အဝါတော်ခံပြီး ဆန္ဒပြ ကြတာလဲ၊


ပမှာဟေ့ဗျ၊ ခင်ဗျားတို့က၊ ထောင်ကို ကောင်းအောင် ပြုပြင်မယ်-ပြုပြင် မယ်နဲ့- ဘယ်မှာကျကျနန ပြုပြင် လို့လဲ


ဒီကနေ့ထက်ထိ၊ ကျုပ်တို့နေရ ထိုင်ရတာဟာ ထောင်ကျတယ်သာ ဆိုရတယ် အိမ်မှာနေရသလိုဘဲ နဲနဲမှမကောင်းဘူး၊ ဒီလိုဆိုရင် ဘာထောင်အကျခံမလဲ၊ ကိုယ့်အိမ် ကိုယ်နေမှာပေါ့၊


ဟောဟိုမှာ နိုင်ငံရေး သွားသွင်း ရတ်ဖွား
တရားဟောနေတယ် အဘ မြင်ရဲ့လား၊
မျက်နှာသားကတော့ တကယ့် ယိုးချစ်
ပုံသာ ရှိကိုက်ပါကဲ့


ပရိတ်သတ်ကလဲ ခလေး
တယောက်ထဲ ပါကလားကွ
လာကွာ- သွားပြီး ခနတဖြုတ်
နားထောင်ရအောင်


မလုပ်နဲ့အဘ၊ လာ-လာ-လစ်ကြစို့၊
ဘာဖြစ်လို့လဲကွ


ကျွန်တော်တို့ဝင်ပြီး နားထောင်
လိုက်ရင်၊ သူ့ထုံးစံအတိုင်း
ပြည်သူလူထုတရပ်လုံးက သူ့ကို
ထောက်ခံတယ်လို့ ကြော်ကြွား
မှာ အဘရဲ့၊


ဟေ့-ခင်ခင်ရေ၊ ဒီမှာကြည့်စမ်းဟေ့
နေရာကြလာပြီကွ၊


အမယ်လေးတော့၊ ပိုက်ဆံမရှိလို့
စိတ်ညစ်ရတဲ့အထဲမှာ၊ ဘာသွား
လုပ်လို့အချုပ်ခံရပြန်တာလဲ


ဟ-မငိုနဲ့ကွ၊ အလုပ်ရလာတာ
အချုပ်ခံရတာမဟုတ်ဘူး၊ သမတယမ
တခုမှာ ငွေထိမ်းအလုပ်ရခဲ့
တယ်ကွ၊


ဒီအလုပ်က၊ ဘုံးဘုံးပြီးပြေးတဲ့
လူတွေများလွန်းလို့ ခုတော့
အလုပ်ခန့်တာနဲ့တခါထဲ
လက်ထိပ်ခတ်ထားတာကွ၊ ဟဲ ဟဲ
ဟဲ-ဟဲ၊






ဟာ- ကျုပ်မလိုက်နိုင်ဘူးဗျာ ကျုပ်မှာ ထင်းဟောက်ကိုအလုပ်တွေ ကတွေ အများကြီး ရှိသေးတယ်ဗျ၊
ဟေ့မောင်မြေဇာ ဘယ်သူ့တွေလဲကွ ဒါလောက်ခေါ်နေကြတာလိုက်သွား ရောပေါ့ကွာ၊ အားနာစရာ၊
ကလောင်သစ်အဖွဲ့တဲ့အဘရဲ့၊ မလိုက်ချင်ပါဘူး ဘာမှကိုယ်က ရေးတတ်တာမှမဟုတ်ဘဲ၊ မနေ့က ဟောဒီကလောင်ကိုဝယ်တာမြင်လို့ မရမကလာခေါ်ကြတာအဘရဲ့.
ခေါ်မယ်ဆိုလဲ ခေါ်စရာပေါ့ကွာ မင့်ကလောင်မျိုး ငါမွေ့တခါမှ မမြင်ဖူးသေးဘူး၊ သစ်လဲသစ် ဆန်းလဲဆန်းပေ့ကွာ၊ ရေးလို့မှ ရရဲ့လား၊


မင်းတို့ဗာရာဏသီမှာ အစားအသောက်ရှားလွန်းလို့ ဝဝတောင်မစားရဘူးဆို
ဟုတ်တယ်အဘရာ တချို့များ၊ မသေရုံ စားနေကြရတယ်
ရှားပေလို့ပေါ့ကွာ ပေါများပေါရင် ခက်ရချီရဲ့
ဘာဖြစ်လို့လဲ အဘရဲ့
ဒီမှာကြည့်ပါလားကွ၊ မြူနီစပယ် အရာရှိကပြောတာ၊ တနေ့ကို မီလ္လာဂါလံပေါင်း ၇၅၀၀၀ တောင် ကျုံးရတယ်ဆိုပါကလားကွ မနိုပါဘူး
အေးဗျာ ဟုတ်ပါရဲ့၊ ဒါတောင် လမ်းဘေးတို့၊ မြောင်းထဲတို့မှာ ပါကြတာတွေကို ထည့်ပြီးမတွက် သေးလို့၊ တွက်မယ်ဆိုရင်ဂါလံ တသိန်းတော့ကျော်တာပေါ့အဘရာ

ခေတ်ကာလဟာတွေ မျှား ခက်ပါတယ်၊ အိမ်က မအာချိုတောင်၊ မနေ့က တဝတ်ဝါ တဆယ်နဲ့ ဝယ်လာပြန်ပြီလေ၊ ဇာကနာ နိုင်လွန်တဲ့၊

(ကြက်ကြက်မန်မန် မျှား၊ ဇာကန်ကာ နိုင်လွန်လို့သာ ပြောသံကြားမိ ပါတယ်၊

(နားမလည်ဘဲနဲ့ပြောရေ့မယ်၊ သူတို့ဥစ္စာက ပါးအားကြီးလို့၊ မဝတ်ခင် ဇာကနာတခြောင်းနဲ့၊ ကျိုင်းမွှေးတွေပြောင်အောင်ချွတ်နုတ် ပစ်ရတာတော့ — သိလား၊


ကောင်မလေးကြည့်ရတာ မင်းကို အတော်စွဲနေပုံပဲကွ၊ ဟန်ကျနေပြီမဟုတ်လား၊ မင်းတော့ စွန်ကို နိုးပါပြီကွာ၊


ဟန်ပါဘူးဗျား၊ အတော်ရိုင်းတဲ့ ဟာကလေးဗျ မနေ့ညက အခန်းထဲမှာ စကားပြောနေကြတုန်း၊ ကျုပ်ကို ပြန်စေချင်တာ၊ ဖွင့်မပြောဘူးဗျ၊ မီးခွက်ကို မှုတ်ပစ်လိုက်တယ်


ကျုပ်ကလဲ လူပါးပဲဗျာ၊ ထပြီးပြန် လာခဲ့တာပေါ့၊
အင်း၊ မင်းတော့ စွန်ကို ဝေးပါသွားတယ်ကွာ၊


ဟော်တယ်က နတ်သမီးရှစ်ယောက် မိခဲ့ပြန်ပြီဆရာ


တနေ့ကပဲ နင်တို့ကို ဟော်တယ်မှာမိလို့၊ ရုံးက ဒဏ်ငွေ သုံးဆယ်စီ ရိုက်လိုက်သေးတယ် မဟုတ်လား၊ ဒီကနေ့ လာပြန်ပြီ


ဒဏ်ငွေကို သူများဆီက ချေးယူပြီး ဆောင်လိုက်ရတာ အကိုရဲ့၊ သူ့ပိုက်ဆံ ပြန်ပေးဖို့ အိုဗာတိုင် ဆင်းရတာပေါ့၊ ပိုက်ဆံကို မရှာလို့ အကိုကပေးမှာလား၊


ရွာသူကြီးရဲ့ ဒကာအရင်းလို့ပြောတယ်၊ ကျုပ် လောကနိဗ္ဗာန်တရားဟောနေရာမှာ ဆင်မြင်းပေါ်တက်လာပြီး၊ သက်သက် တွန်းချတယ်၊ ဒီမှာကြည့်စမ်း


ဒီလိုလေလုံးမျိုးတွေနဲ့ တပည့်တော်တို့ ခံရတာများပြီဘုရား၊ ဒါကြောင့်ဒေါသ ဖြစ်ဖြစ်နဲ့ တွန်းချမိတာပဲ


ဟာ၊ မင်းသိတ်ရမ်းတဲ့အကောင်ပဲ၊ မတော်တဆ အောက်ကနားထောင်နေတဲ့လူတွေပေါ်ကျပြီး ထိခိုက်ကုန်ရင်မခက်ပါလား၊ နောင်ကို လုပ်မယ်ကြံရင်၊ ကြည့်လုပ်ပါ-သိလား


ဟေ့ မောင်မြေဆာ၊ တချက်လောက် နိုး ထစမ်းကွာ၊ ခြေသလုံးတွေ တောင့်လွန်းလို့၊
ဟေ့ အဘ၊ ကျွန်တော် တော်တော်ပြင်းပြင်း အတော် ဖိပြီ၊ တော်တော် သက်သာရဲ့လား၊
နိုးနိုးမှ မသက်သာ သေးပါဘူးကွာ - လုပ်စမ်းပါဦး၊
ဒီလိုဆိုရင် အဘမှာ ငွေလေး ငါးသောင်းလောက် မလှယ်ဘူးလား၊
ကြံကြံဖန်ဖန်ကွာ ဘာလုပ်ဖို့လဲ
ဒီလို ခြေသလုံး တောင့်တောင့် လာရင်၊ တခြား နိုင်ငံတွေမှာ ဘယ်လိုလုပ်တယ် ဆိုတာ ထုံးစံအတိုင်း သွားပြီး လေ့လာမှ ပြေလိမ့်မယ် ထင်တယ် အဘရာ၊


ပိုက်ဆံကလေး တပဲလောက် သနားပါဗျာ၊ ထမင်းမစားရ သေးလို့ပါ


မဟာဂျူးကျွာ-ဟောဟိုလူဆီမှာ လိုက်တောင်း၊ သူကဆင်းရဲသား ကျော့မွဲတောင်းစားရေးအကြောင်း လည်ပြီးဟောနေတဲ့လူပေါ့




ရခဲ့တယ်မဟုတ်လား
တော်ပါဗျာ၊ သူလုပ်ငန်း အကြောင်းတရားဟောပြီး ရံပုံငွေ ဆီးခံလို့ ကျုပ်ပိုက်ဆံကလေး တမူးတောင်ပါသွားပြီဗျာ၊ သေ ဆဲတာ့ဘဲ၊

# ကာတွန်းဆရာကြီး ဦးဘဂျမ်း၏ ခေတ်အမြင် ကာတွန်း




ရှေးသရောအခါ-မင်းသားသုံးပါးသည်-ကျားဆွဲသွားသော မင်းသမီးကလေး မသိမ်းအေးအား ရှာရန်-အကြံပြု၍ ထွက်ကြလေ၏-ပဌမမင်းသားသည်-ကျားကိုတွေ့လျှင် တောင်းပန်ခြင်းဖြင့်အောင်မြင်အံ့ဟု ယူဆ မိသဖြင့်။

ကျားကလေး၏ စားသောက်ခြင်းကို ခံရလေ၏






ဒုတိယမင်းသားနှင့်တွေ့ပြန်ရာ နားလည်မှုဖြင့်အောင်မြင်အံ့ဟု အယူရှိသဖြင့်

ကျားကလေး၏ စားသောက်ခြင်းကို ခံရပြန်၏






တတိယမင်းသားကား-အပြတ်ချေခြင်းဖြင့် အောင်မြင်အံ့ဟု ဟစ်အော်ကာ-အသေသတ်သဖြင့်

ကျားသေကာ-မြာတတွေကို-တရှေ ပေါင်းရလေတော့သတည်း။

## ကာတွန်းဆရာကြီး ဦးဘဂျမ်း၏ ခေတ်အမြင် ကာတွန်း



## ကာတွန်းဆရာကြီး ဦးဘဂျမ်း၏ ခေတ်အမြင် ကာတွန်း



## ကာတွန်းဆရာကြီး ဦးဘဂျမ်း၏ ခေတ်အမြင် ကာတွန်း



## ကာတွန်းဆရာကြီး ဦးဘဂျမ်း၏ ခေတ်အမြင် ကာတွန်း



## ကာတွန်းဆရာကြီး ဦးဘဂျမ်း၏ ခေတ်အမြင် ကာတွန်း



## ကာတွန်းဆရာကြီး ဦးဘဂျမ်း၏ ခေတ်အမြင် ကာတွန်း



ကာတွန်းဆရာကြီး ဦးဘဂျမ်း၏ ခေတ်အမြင် ကာတွန်း




ပိုက်ဆံကလေး တပဲလောက် သနားပါဗျာ၊ ထမင်းမစားရ သေးလို့ပါ


မပါဘူးကွာ-ဟောဟိုလူ့ဆီမှာ လိုက်တောင်း၊ သူက ဆင်းရဲသား ကျောမွဲကောင်း စားရေးအကြောင်း လယ်ပြီးဟောနေတဲ့လူပေါ့




ရခဲ့တယ်မဟုတ်လား
တော်ပါဗျာ၊ သူ့လုပ်ငန်း အကြောင်းတရားဟောပြီး ရံပုံငွေ ဆီးခံလို့ ကျုပ်ပိုက်ဆံကလေး တမူးတောင်ပါသွားပြီဗျာ၊ သေ ဆင်တာ့ဘဲ၊


အိပ်မက်များဟာ၊ မှန်တဲ့အခါ
သိတ်မှန်တာ ကဲဗျာ၊ ကျုပ်ဖြင့်အံ့ရော၊
နတ်များ ချီးဆော်တာနဲ့.
တူတယ်


ထီစဖွင့်တဲ့နေ့က၊ အိမ်သာထဲကို
လိမ့်ကျတယ်လို့ အိပ်မက်တယ်ဗျ၊
အဲဒါနဲ့ ထီရုံကိုသွားပြီး နံပါတ်
တိုက်တယ်


ပဌမနေ့မှာ ဘာမှမထူးခြားဘူး
ဒုတိယနေ့လဲ မသိသာသေးဘူး
နောက်ဆုံးနေ့ သနေ့ကျမှ တကယ်
မှန်တာပဲ ဗျာ
ပေါက်ရောလား


မပေါက်ဘူးဗျ၊ ဒါပေမဲ့ အိမ်ပြန်
အလာမှာ၊ ဟောဟိုတဲ တန်းနောက်က
အိမ်သာတွင်းထဲကို လိမ့်ကျလိုက်တာ
ရေစက်မရှိပါဘူးဗျာ၊
သိတ်မှန်တဲ့အိပ်မက်
ပါကဲ၊


ကျုပ်တို့လေးအိမ်ရ သမဂ္ဂကြီးက
ကောလိပ် အစည်းအဝေးကြီး၏
မွန်မြတ်သောဆုံးဖြတ်ချက်များကို
ထောက်ခံဖို့အဆိုသွင်းပါတယ်


ကျုပ်က၊ ဦးလည်မသုန် မှတ်ဦးပြု
ထောက်ခံပါတယ် -


အဲဒီ မွန်မြတ်လှတဲ့ဆုံးဖြတ်ချက်
များမှာဆိုရင်---xxxx--ဒါနဲ့
စကားမစပ် အဲဒီဆုံးဖြတ်ချက်ကြီးက
ဘယ်လိုဟာတွေလဲဗျ၊


ဘယ်သိမလဲဗျ၊ ကောလိပ်မှာ
စည်းဝေးတယ်ဆိုတာတောင်မှ
တနေ့က မိအေးမြို့ကိုတက်ပြီး
ဈေးဝယ်တုံး၊ဆန်ပြုတ်ဆိုင်မှာ
ပြောနေသံကြားခဲ့တယ်လို့
ပြောတာကိုး၊

